


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မ.နသ – ၁၀/၉၇

၁၉၉၇ ခုနှစ်၊ နိုဝင်ဘာ လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးဝင်းဆွေ

(ခ) အဘအမည် ဦးကြင်ဝမ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လသန(နိုင်)၀၀၇၃၁၇

(ဃ) နေရပ်လိပ်စာ အမှတ်(၄၀၀)ကမ်းနားလမ်း၊
လသာမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသော စီးပွားရေးအဖွဲ့အစည်း အမည် ဝင်းနှင့်ဝင်းပရိုဒက်ရှင်း
ကုမ္ပဏီလီမိတက် ( Win & Win Production Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ကုန်ကြမ်းဝယ်ယူ၍ လုပ်ကိုင်သော
စနစ်နှင့်( CMP ) အခစားစနစ်ဖြင့် လုပ်ကိုင်သော အထည်ချုပ်လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၇)၊ မြေတိုင်း
ရပ်ကွက်အမှတ်ဝိုင်း(၄)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၆.၆၀)သန်း
(ကျပ်သုံးဆယ့်ခြောက်သန်းခြောက်သိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၆၃/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် ၆ ရက်။
(၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.) သည် ဦးဝင်းဆွေ အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း(၄) မြေကွက်အမှတ်(၇)ရှိ မြေ(၂.၂၂၇)ဧက (၉၀၁၂.၃၆ စတုရန်းမီတာ)ကို ငှါးရမ်း၍ အထည်ချုပ် စက်ရုံ တည်ဆောက်ပြီး၊ ကုန်ကြမ်းဝယ်ယူ၍ လုပ်ကိုင်သောစနစ်နှင့် (CMP) အခစားစနစ်အရ လုပ်ကိုင်သော အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၉-၁၀-၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၂-၁၀-၉၈)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၇/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်(Win & Win Production Co., Ltd.)အား ကုန်ကြမ်းဝယ်ယူ၍ လုပ်ကိုင်သောစနစ်နှင့် (CMP) အခစားစနစ်အရ လုပ်ကိုင်သော အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၀၀/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက် သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများ၊ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်မှာ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ်သည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-

back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထား၍ ဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှားချထားသူ ဦးဝင်းဆွေနှင့် အငှားချထားခြင်း ခံရသူ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.) တို့ ချုပ်ဆိုမည့် မြေ ငှါးရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၀။ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၁။ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ -

( ဗိုလ်မှူးချုပ် မောင်မောင် )

အတွင်းရေးမှူး

စာအမှတ်၊ ရက-၁/မ-၂၈၇/၉၈ (၅၆၂၆)(၁၃)။

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။

၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။

၁၁။ လူ့ဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူ့ဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ အုပ်ချုပ်မှုဒါရိုက်တာ၊ ဝင်း အင်(န်) ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက် (Win & Win Production Co., Ltd.)။

အ မိန့် အ ရ -

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၁၈/၉၈(၅၁၁၃)၊
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ ၁၆ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက်မှ အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက်( Win & Win Production Co., Ltd. )မှ အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို(၉-၁၀-၉၈)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၈/၉၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်း ငွေပေးချေခြင်းစနစ် သဘောတူစာချုပ်(မူကြမ်း)နှင့် မြေငှားသဘောတူစာချုပ်(မူကြမ်း)များကို နောက်ဆက်တွဲ(၁)အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၃.၆)သန်းအပါအဝင်စုစုပေါင်းကျပ်(၃၆.၆၀)သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၇.၀၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ်(၈.၀၀)သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုးကျပ်(၃.၆၀)သန်း [အမေရိကန်ဒေါ်လာ(၀.၆)သန်း]၊ ကုန်ကြမ်းပစ္စည်းတန်ဖိုးကျပ်(၁၈.၀၀)သန်း [အမေရိကန်ဒေါ်လာ(၃.၀၀)သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများကို

စင်ကာပူနိုင်ငံ ( Maya Manufacturing & Trading (Pte) Ltd. ) မှ ရွှေဆိုင်း ငွေ ပေး ချေခြင်းစနစ်ဖြင့် ဝယ်ယူမည်ဖြစ်ပြီးတစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည် ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ကမကထပြုသူ ဦးဝင်းဆွေ အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန ပိုင်၊ မြေကွက်အမှတ်( ၇ )၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း( ၄ )၊ လှိုင်သာယာ စက်မှုဇုန်ရှိ မြေ( ၂.၂၂၇ ) ဧက [ ၉၀၁၂.၃၆ စတုရန်းမီတာ ] ကို ငှားရမ်း၍ စက်ရုံတည် ဆောက်ပြီး CMP စနစ်ဖြင့်လည်း ကောင်း၊ ကုန်ကြမ်း ဝယ်ယူ၍ ကိုယ်ပိုင် ချုပ်လုပ်ခြင်းဖြင့်လည်း ကောင်း အထည်ချုပ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ထုတ်လုပ်မည့်အထည်အမျိုးမျိုး၏ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမှတ်စဉ် | အကြောင်းအရာ | CMP စနစ် | | ကိုယ်ပိုင် ချုပ်လုပ်ခြင်း | | | |
|---|---|---|---|---|---|---|---|
| | | | | ပြည်တွင်း (၅ %) | | ပြည်ပ (၉၅ %) | |
| | | ထုတ်လုပ်မှု ထည်(၀၀၀) | ချုပ်ခငွေ US$ / ထည် | ထုတ်လုပ်မှု ထည်(၀၀၀) | ရောင်းဈေး ကျပ်/ ထည် | ထုတ်လုပ်မှု ထည်(၀၀၀) | ရောင်းဈေး US$ / ထည် |
| ၁။ | T-Shirt, Sport Shirt | ၃၀၀ | ၀.၇၀ | ၁၅ | ၁၅၄၀ | ၂၈၅ | ၅.၆၀ |
| ၂။ | Coat, Jacket | ၃၀၀ | ၁.၈၂ | ၁၅ | ၃၅၀၀ | ၂၈၅ | ၁၄.၀၀ |

၅။ ကိုယ်ပိုင်ချုပ်လုပ်မှုအတွက် ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းပြည်ပ မှ ဝယ်ယူမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေ နှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

( ကျပ်သန်း )

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၇၅.၆၀ | ၃၈.၀၅ | ၁၁၃.၆၅ |
| (ခ) အသုံးစရိတ် | ၇၅.၁၃ | ၃၀.၄၉ | ၁၀၅.၆၂ |
| (ဂ) အသားတင်အမြတ် | ၀.၄၇ | ၇.၅၆ | ၈.၀၃ |

၇။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင် နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် (ကျပ်သန်း) | ၀.၂၀ |
| | (အမေရိကန်ဒေါ်လာသန်း) | ၀.၂၂ |
| (ခ) | ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၆.၈၇ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၂၇၇) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၅) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များမဖြစ်ပွားရန် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများပြုလုပ် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ နိုင်ငံခြားသို့ အထည်များတင်ပို့ရရှိသော နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက် လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ဝင်းအင်(န်) ဝင်းပရိုဒက်ရှင်းကုမ္ပဏီလီမိတက်မှ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

[ဗိုလ်မှူး ချစ်မောင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>



* ၈န်၁၄-၁၀-၉၀။

O/C

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

## ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက်

**********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## WIN & WIN PRODUCTION COMPANY LIMITED

**Win & Win Production Co., Ltd.**
**ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်**

No.400, Strand Road, Latha Township, Yangon, Myanmar. Tel : 01-226803, 226897 Fax : 951-227073

Date ........................................

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ( ၁၂ )ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် Win & Win Production Co.,Ltd သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၄)၊ မြေကွက်အမှတ် (၈) ရှိ ၂.၂၂၈ ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် အထည်ချုပ် ( Garment Factory ) စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ( T-Shirt, Sport-Shirt, Coat and Jacket ) များကို ကုန်ကြမ်းဝယ်ယူ၍ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ(C.M.P)အခစားစနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ထို့သို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးမှ ညှိနှိုင်းပြင်ဆင်ရန်အချက်များအား ပြန်လည်ပြင်ဆင်ပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဆုံးဖြတ်ချက်အရ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ ခွင့်ပြုချက်ရယူနိုင်ရန်အတွက် အဆိုပြုလွှာ(၂၅)စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ဦးဝင်းဆွေ )
( အုပ်ချုပ်မှုဒါရိုက်တာ )
Win & Win Production Co.,Ltd

U WIN SWE
Managing Director
Win & Win Production Co.,Ltd.

# Win & Win Production Co., Ltd.

ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်

No 400 Strand Road, Latha Township, Yangon, Myanmar Tel : 01-226803, 226897 Fax 951-227073

Date ............................................

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။ ၁၉၉၈ ခုနှစ်၊ အောက်တိုဘာလ (၆)ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် Win & Win Production Co.,Ltd သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၄)၊ မြေကွက်အမှတ်(၇)ရှိ ၂.၂၂ဧက အကျယ်အဝန်းရှိသောမြေနေရာတွင် အထည်ချုပ် ( Garment Factory ) စက်ရုံ တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ( T-Shirt, Sport-Shirt, Coat and Jacket) များကို ကုန်ကြမ်းဝယ်ယူ၍ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ(C.M.P)အခစားစနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစီစစ်ရန် တင်ပြထားခြင်းမှ ပြင်ဆင်ရန်အချက်များအား ပြင်ဆင်ပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ ( ၂၅ ) စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ဦးဝင်းဆွေ )
( အုပ်ချုပ်မှုဒါရိုက်တာ )
Win & Win Production Co.,Ltd

U WIN SWE
Managing Director
Win & Win Production Co.,Ltd.

# Win & Win Production Co., Ltd.

ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်

No.400, Strand Road, Latha Township, Yangon, Myanmar. Tel : 01-226803, 226897 Fax : 951-227073

သို့

Date ........................................

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ ခုနှစ်၊ ဩဂုတ်လ(၂၀) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအကြိုစိစစ် ပေးနိုင်ရန် ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် Win & Win Production Co.,Ltd သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၄)၊ မြေကွက်အမှတ်( ၇ ) ရှိ ၂.၂၂၇ ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် အထည်ချုပ် ( Garment Factory ) စက်ရုံ တည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် (T-Shirt, Sport-Shirt, Coat and Jacket) များကို ကုန်ကြမ်းဝယ်ယူ၍ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ(C.M.P)အခစားစနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကိုလိုအပ်သလို စိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ(၁၅)စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ဦးဝင်းဆွေ )
( အုပ်ချုပ်မှုဒါရိုက်တာ )
Win & Win Production Co.,Ltd

U WIN SWE
Managing Director
Win & Win Production Co.,Ltd.

# Win & Win Production Co., Ltd.

ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်

No.400, Strand Road, Latha Township, Yangon, Myanmar. Tel : 01-226803, 226897 Fax : 951-227073

သို့

Date ......................................

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ ခုနှစ်၊ ဩဂုတ်လ( ၂၀ )ရက်။

**အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် Win & Win Production Co.,Ltd သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း( ၄ )၊ မြေကွက်အမှတ် (ရ) ရှိ ၂.၂၂၇ ဧက အကျယ်အဝန်း ရှိသောမြေနေရာတွင် အထည်ချုပ် ( Garment Factory ) စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် (T-Shirt, Sport-Shirt, Coat and Jacket) များကို ကုန်ကြမ်းဝယ်ယူ၍ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ( C.M.P )အခစားစနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည် စင်္ကာပူနိုင်ငံ၊ ရှိ Maya Manufacturing & Trading (Pte) Ltd မှ အမေရိကန်ဒေါ်လာ(၃.၆)သန်းတန်ဘိုးရှိသော စက်ပစ္စည်းကိရိယာများနှင့် ကုန်ကြမ်းပစ္စည်းများ ကို ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် ( Deferred Payment System )ဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရန် တစ်နှစ်လျှင်(၅)ရာခိုင်နှုန်းအတိုးဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ပါ သည်။

၃။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ရင်းနှီးငွေကျပ်(၁၅)သန်းကို မြန်မာနိုင်ငံကျပ်ငွေ၊ အဆောက်အဦးများဖြင့်လည်းကောင်း ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ ရရှိလာသောအမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့်များ ကိုလည်းပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

**Win & Win Production Co., Ltd.**
ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်

No.400, Strand Road, Latha Township, Yangon, Myanmar. Tel : 01-226803, 226897 Fax : 951-227073

 Date ........................................

၅။ ထို့အပြင် ထုတ်လုပ်မည့်အထည်(T-Shirt, Sport-Shirt, Coat and Jacket) များကို နိုင်ငံခြား ငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ရောင်းချရရှိရာတွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့် ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါ သည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊
(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ
(၃)ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်းများ
(၄)ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( ဦးဝင်းဆွေ )
( အုပ်ချုပ်မှုဒါရိုက်တာ )
Win & Win Production Co.,Ltd

U WIN SWE
Managing Director
Win & Win Production Co.,Ltd,

# Win & Win Production Co., Ltd.

ဝင်း & ဝင်း ပရိုဒတ်ရှင်း ကုမ္ပဏီ လီမိတက်

No.400, Strand Road, Latha Township,Yangon, Myanmar Tel : 01-226803, 226897 Fax 951-227073

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊ Date ..........................................
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

ရက်စွဲ ။ ။၁၉၉၈ ခုနှစ်၊ ဩဂုတ်လ(၂၀) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် Win & Win Production Co.,Ltd သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၄)၊ မြေကွက် အမှတ် (၇) ရှိ ၂.၂၂၇ ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် အထည်ချုပ် ( Garment Factory ) စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ( T-Shirt, Sport-Shirt, Coat and Jacket ) များကို ကုန်ကြမ်းဝယ်ယူ၍ချုပ်လုပ်ခြင်း နှင့် စီအမ်ပီ(C.M.P)အခစားစနစ်အရ ချုပ်လုပ်ခြင်းဖြင့် ပြည်တွင်းပြည်ပရောင်းချနိုင်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ဖော်ပြပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(က) မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံ ကတိပြုပါသည်။

(ခ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထား မည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ဂ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် အထည်ချုပ် (Garment)များ ထုတ်လုပ်ရောင်းချရာ၌ကိုယ်ပိုင်အမှတ်တံဆိပ်ဖြင့် နိုင်ငံခြားသို့အမှန်တကယ်တင်ပို့ ရောင်းချသွားမည်ဖြစ်ကြောင်း နှင့် နိုင်ငံခြားမှရွှေ့ဆိုင်းငွေပေးချေခြင်းနည်းလမ်း (Deferred Payment System)အရ ဝယ်ယူထားသော တန်ဘိုးနှင့်ပတ်သက်၍ နိုင်ငံခြားမှ အကြွေးပေးသူနှင့် ချေးယူသူ ကျွန်တော်တို့ကုမ္ပဏီနှစ်ဦးနှစ်ဖက်နှင့်သာသက်ဆိုင်ပြီး၊ နိုင်ငံတော်နှင့် မသက်ဆိုင်ပါကြောင်းနှင့် ပြန်လည်ပေးဆပ်ရာတွင်လည်း နိုင်ငံခြားသို့ အထည်များတင်ပို့ရရှိသော နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဃ) ယခုအဆိုပြုတင်ပြသော အထည်ချုပ်(Garment)လုပ်ငန်းဆောင်ရွက်ခြင်းသည် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းအသစ်၊ ရင်းနှီးမြှုပ်နှံမှုအသစ်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

U WIN SWE
Managing Director
Win & Win Production Co.,Ltd.

( ဦးဝင်းဆွေ )
( အုပ်ချုပ်မှုဒါရိုက်တာ )
Win & Win Production Co.,Ltd



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ( မနသ - ၁ )

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၂၀ . ၈ . ၉၈

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

| | |
|---|---|
| (က) အမည် | ဦးဝင်းဆွေ |
| (ခ) အဘအမည် | ဦးကြင်ဝမ် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/လသန(နိုင်) ၀၀၇၃၅၇ |
| (ဃ) နေရပ်လိပ်စာ | အမှတ် (၄၀၀)၊ ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |
| (င) လူမျိုး/ဘာသာ | မြန်မာ/ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် |
| (ဆ) လုပ်ငန်းအမျိုးအစား | စက်မှု/ထုတ်လုပ်မှု/ဆောက်လုပ်ရေး |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ် (၄၀၀)၊ ကမ်းနားလမ်း၊ လသာမြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ -

| | |
|---|---|
| (က) အမည် | - |
| (ခ) အဘအမည် | - |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) နေရပ်လိပ်စာ | - <br> - |
| (င) လူမျိုး/ဘာသာ | - |
| (စ) အဖွဲ့အစည်းအမည် | - |
| (ဆ) လုပ်ငန်းအမျိုးအစား | - |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | - <br> - |

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား–

| | |
|---|---|
| (က) ကုန်ထုတ်လုပ်မှုလုပ်ငန်း | ကုန်ကြမ်းဝယ်ယူ၍ လုပ်ကိုင်သောစနစ် နှင့် စီအမ်ပီ (C.M.P)အခစားစနစ်အရ လုပ်ကိုင်သော အထည်ချုပ်လုပ်ငန်း(Manufacturing of Garment ) |
| (ခ) ဝန်ဆောင်မှုလုပ်ငန်း | - |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ –

| | |
|---|---|
| (က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား – ၁ ) |
| (ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | |
| (ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း | |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်–

| | |
|---|---|
| (က) တစ်ဦးတည်းပိုင် | – |
| (ခ) အစုစပ်လုပ်ငန်း | – |
| (ဂ) လီမိတက်ကုမ္ပဏီ | ဝင်းအင်(န်)ဝင်းပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် (Win & Win Production Co.,Ltd ) ( နောက်ဆက်တွဲဇယား – ၁ ) |
| (ဃ) သမဝါယမအသင်း | – |

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက–

| | |
|---|---|
| (က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ | – |
| (ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား | – |
| (ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ | – |

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက–

| | |
|---|---|
| (က) ခွင့်ပြုမတည်ငွေရင်း | ကျပ် ၁၀၀,၀၀၀,၀၀၀(ကျပ်သန်းတစ်ရာတိတိ) |
| (ခ) အစုရှယ်ယာအမျိုးအစား | တစ်စုလျှင်ကျပ် ၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ)တန် သာမန်အစုရှယ်ယာ ၁၀,၀၀၀ ( တစ်သောင်း ) |
| (ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ | ကျပ် ၁၅,၀၀၀,၀၀၀(ကျပ်တစ်ဆယ့်ငါးသန်းတိတိ) တစ်စုလျှင်ကျပ် ၁၀,၀၀၀(ကျပ်တစ်သောင်းတိတိ)တန် အစုရှယ်ယာ ( ၁၅၀၀ ) |

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ –

(က) မတည်ငွေရင်းပမာဏ

| | ( ကျပ် ) |
|---|---|
| (၁) ငွေပမာဏ | ၅,၀၀၀,၀၀၀ |
| (၂) အဆောက်အဦး( နောက်ဆက်တွဲဇယား ၂ ) | ၈,၀၀၀,၀၀၀ |
| (၃) မြေ | – |
| (၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | – |
| (၅) စက်ပစ္စည်းကရိယာများ( နောက်ဆက်တွဲဇယား ၃–က ) | ၃,၆၀၀,၀၀၀ |
| (၆) ကုန်ကြမ်းပစ္စည်းများ( နောက်ဆက်တွဲဇယား ၃–ခ ) | ၁၈,၀၀၀,၀၀၀ |
| စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၃၄,၆၀၀,၀၀၀ |

(စက်ပစ္စည်းများ နှင့် ကုန်ကြမ်းပစ္စည်းများကို စင်္ကာပူနိုင်ငံရှိ Maya Manufacturing & Trading (Pte) Ltd မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် ( Deferred Payment System )အရ (၄) နှစ်အကြွေးဖြင့် တစ်နှစ်လျှင် ၅% အတိုးနှုန်းဖြင့်ဝယ်ယူမည်ဖြစ်ပါသည်။ )

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၃–က ) | ၃၆၀၀၀၀၀ | ၆၀၀၀၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၃–ခ ) | ၁၈၀၀၀၀၀၀ | ၃၀၀၀၀၀၀ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | – | – |
| | ၂၁၆၀၀၀၀၀ | ၃၆၀၀၀၀၀ |

(ဂ) တည်ဆောက်မှုကာလ (၁၂)လ

(ဃ) ပမာဏစုစမ်းလေ့လာမှုပြုလုပ်မည့်ကာလ (၃)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ –

(က) လုပ်ငန်းအမျိုးအစား — ကုန်ကြမ်းဝယ်ယူ၍ လုပ်ကိုင်သောစနစ် နှင့် စီအမ်ပီ (C.M.P)အခစားစနစ် အရလုပ်ကိုင်သော အထည်ချုပ်လုပ်ငန်း(Manufacturing of Garment )

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — မြေကွက်အမှတ်(၅)၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၄)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — နိုင်ငံတကာအဆင့်မီထုတ်လုပ်မှုနည်းပညာ

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| | |
|---|---|
| ၁။ ဒီဇယ်ဆီ | ဂါလံ ( ၁၂၀၀၀ ) |
| ၂။ ဓါတ်ဆီ | ဂါလံ ( ၃၀၀၀ ) |
| ၃။ စက်ဆီ၊ ချောဆီ | ဂါလံ ( ၂၀၀ ) |
| ၄။ သဘာဝဓါတ်ငွေ့ရည် | - |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| | |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | (၅၀၀) ကေဗွီအေ |
| ၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား | (၂၅၀) H.P |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | - |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - |
| ၅။ ပေးပို့သည့်အခြားအား(ရေအား/လေအားစသည်များ) | - |

(စ) နှစ်စဉ်ရေလိုအပ်ချက်-

| | |
|---|---|
| ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ ( ၁၅၀၀၀ ) |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ ( ၄၅၀၀၀၀၀ ) |

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် — နောက်ဆက်တွဲဇယား - ၄

(ဇ) အဆောက်အဦလိုအပ်ချက် — ၁၂၀ ပေ × ၈၀ ပေ (၁)လုံး

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် — ပုဂ္ဂလိကပိုင်စက်မှုမြေ၊ (၂.၂၂၅ )ဧက / ( ၉၈၀၀၀ )စတုရန်းပေ

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု — နောက်ဆက်တွဲဇယား - ၅

(ဋ) ရောင်းချမည့်နည်းစနစ်

| | |
|---|---|
| ပြည်ပသို့တင်ပို့ရောင်းချမှု | ၉၅ % |
| ပြည်တွင်းရောင်းချမှု | ၅ % |
| စီအမ်ပီ (C.M.P)အခစားစနစ် | |

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၆ | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၈ | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၅ | |

(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး   နောက်ဆက်တွဲဇယား - ၅
(င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး   နောက်ဆက်တွဲဇယား - ၅

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ-   နောက်ဆက်တွဲဇယား - ၇

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ-   နောက်ဆက်တွဲဇယား - ၇

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား - ၈ | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား - ၈ | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား - ၈ | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား - ၉ | |
| (င) အရင်းကြေကာလ | နောက်ဆက်တွဲဇယား - ၁၀ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား - ၁၁ /၁၂ | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲဇယား - ၇ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ-
အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း။
(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ။
(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ။
(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ။ ------------------------
အမည်၊ ။ ဦးဝင်းဆွေ
ရာထူး၊ ။ အုပ်ချုပ်မှုဒါရိုက်တာ
Win & Win Production Co.,Ltd

U WIN SWE
Managing Director
Win & Win Production Co.,Ltd.

**PROPOSAL FORM (1) RE-ITEM 8 A(2)**

**VALUE OF FACTORY BUILDINGS**

**Exhibit No. II**

| Sr No | DESCRIPTION | NO. OF BUILDINGS | DIMENSION | TOTAL COST IN KYAT |
|---|---|---|---|---|
| A | ဆောက်လုပ်ရမည့်အဆောက်အဦးများ | | | |
| 1 | Factory Building | 1 | 120' x 80' | 8,000,000 |
| | စုစုပေါင်း | | | 8,000,000 |

## PROPOSAL FORM (1) RE-ITEM 8 A(5), 8B(1)
## LIST OF MACHINERIES AND EQUIPMENT ETC

**Exhibit No. III(A)**

| Sr No | PARTICULARS | UNIT | QTY | PRICE IN US$ | VALUE IN US$ |
|---|---|---|---|---|---|
| 1 | Single Needle Machine | Set | 200 | 400 | 80000 |
| 2 | Double Needle Machine | Set | 25 | 2100 | 52500 |
| 3 | Five Thread Overlock Machine | Set | 16 | 2000 | 32000 |
| 4 | Elastic/Waist Machines | Set | 2 | 2000 | 4000 |
| 5 | Bartack Machines | Set | 2 | 2100 | 4200 |
| 6 | Electronic Boiler | Set | 2 | 4400 | 8800 |
| 7 | Steam Iron | Units | 16 | 150 | 2400 |
| 8 | Fusing Machine | Set | 1 | 12000 | 12000 |
| 9 | (6mm) Button Hole Machine | Set | 2 | 2200 | 4400 |
| 10 | Eyelet Button Hole Machine | Set | 2 | 17500 | 35000 |
| 11 | Buttoning Machines | Set | 4 | 1000 | 4000 |
| 12 | Sanp Button Machine | Set | 10 | 500 | 5000 |
| 13 | Electric Cutter | Set | 5 | 1600 | 8000 |
| 14 | Electric Driller | Set | 1 | 500 | 500 |
| 15 | All Kinds of Spare - Part | | | | 6000 |
| 16 | Cutting - Table | Units | 6 | 2000 | 12000 |
| 17 | All Kinds of Scissors | Units | 900 | 5 | 4500 |
| 18 | Bundling Machine | Units | 5 | 1000 | 5000 |
| 19 | Ironing Table | Set | 12 | 1000 | 12000 |
| 20 | Time Card Machine | Set | 3 | 1000 | 3000 |
| 21 | Packing Machine | Set | 2 | 1500 | 3000 |
| 22 | Quilting Machine | Set | 2 | 17500 | 35000 |
| 23 | Generator - 200KVA/300 KVA | Set | 2 | 27500 | 55000 |
| 24 | Saloon Car | Units | 2 | 25000 | 50000 |
| 25 | Pick-up | Units | 1 | 10000 | 10000 |
| 26 | Mini Bus | Units | 1 | 14000 | 14000 |
| 27 | Electronic Equipments | | | | 21000 |
| 28 | Fork Lift | Units | 4 | 3000 | 12000 |
| 29 | M.S. Rod | Ton | 100 | 285 | 28500 |
| 30 | Cement | Ton | 1000 | 65 | 65000 |
| 31 | Computer & Printer | Set | 2 | 2600 | 5200 |
| 32 | Air Conditioner | Units | 5 | 700 | 3500 |
| 33 | Photo Copying Machine | Units | 1 | 2500 | 2500 |
| | SUB-TOTAL OF EXHIBIT NO. III( A ) | | | | 600,000 |
| | SUB-TOTAL OF EXHIBIT NO. III( B ) | | | | 3,000,000 |
| | GRAND TOTAL | | | | 3,600,000 |
| | EQUIVALENT IN KYATS | | | | 21600000 |

Note: :(1)Exchange Rate 1 US$ = Kyat 6.00

**PROPOSAL FORM (1) RE-ITEM 8 A(6), 8 B(2)**
**VALUE OF RAW MATERIALS**

***Exhibit No. III(B)***

| Sr. No | DESCRIPTION | QTY | UNIT PRICE IN US$ | AMOUNT IN US$ |
|---|---|---|---|---|
| 1 | Polyester/Cotton Fabrics | 2000000 yd | 1.2 | 2,400,000 |
| 2 | Trimming | 600000 pcs | 1.0 | 600,000 |
| | TOTAL | | US$ | 3,000,000 |

## PROPOSAL FORM (1) RE-ITEM 8(g)

**ANNUAL RAW MATERIALS REQUIREMENT** **Exhibit No IV**

| PARTICULARS | UNIT | YEAR | | | | |
|---|---|---|---|---|---|---|
| | | 1 | 2 | 3 | 4 | 5 - 10 |
| **Normal Production** | | | | | | |
| T-Shirt, Sport-Shirt | Pcs 000 | 300 | 300 | 300 | 300 | 300 |
| Coat, Jacket | Pcs 000 | 300 | 300 | 300 | 300 | 300 |
| **C.M.P Basic Production** | | | | | | |
| T-Shirt, Sport-Shirt | Pcs 000 | 300 | 300 | 300 | 300 | 300 |
| Coat, Jacket | Pcs 000 | 300 | 300 | 300 | 300 | 300 |
| **TOTAL** | Pcs 000 | 1200 | 1200 | 1200 | 1200 | 1200 |
| **Raw material requirement for C.M.P Production** | | | | | | |
| Polyester/Cotton Fabrics | yard 000 | 2400 | 2400 | 2400 | 2400 | 2400 |
| Trimming | Pcs 000 | 600 | 600 | 600 | 600 | 600 |
| **Raw material requirement for Normal Production** | | | | | | |
| **Foreign raw material purchase(Qty)** | | | | | | |
| Polyester/Cotton Fabrics | yard 000 | 2300 | 2300 | 2300 | 2300 | 2300 |
| Trimming | Pcs 000 | 600 | 600 | 600 | 600 | 600 |
| **Local raw material purchase(Qty)** | | | | | | |
| Polyester/Cotton Fabrics | yard 000 | 100 | 100 | 100 | 100 | 100 |
| **Foreign raw material purchase(Price)** | | | | | | |
| Polyester/Cotton Fabrics | US$/yd 000 | 1200 | 1320 | 1440 | 1560 | 1680 |
| Trimming | US$/Pcs 000 | 1000 | 1100 | 1200 | 1300 | 1400 |
| **Local raw material purchase(Price)** | | | | | | |
| Polyester/Cotton Fabrics | Ks/yd 000 | 300000 | 330000 | 360000 | 390000 | 420000 |
| **Foreign raw material purchase(Value)** | | | | | | |
| Polyester/Cotton Fabrics | US$ 000 | 2760 | 3036 | 3312 | 3588 | 3864 |
| Trimming | US$ 000 | 600 | 660 | 720 | 780 | 840 |
| **TOTAL IN US$** | US$ 000 | 3360 | 3696 | 4032 | 4368 | 4704 |
| **EQUIVALENT IN KYATS** | Ks 000 | 20160 | 22176 | 24192 | 26208 | 28224 |
| **Local raw material purchase(Value)** | | | | | | |
| Polyester/Cotton Fabrics | Ks 000 | 30000 | 33000 | 36000 | 39000 | 42000 |
| **TOTAL VALUE IN KYAT** | Ks 000 | 50160 | 55176 | 60192 | 65208 | 70224 |

Note: (1) Exchange Rate 1 US$ = Kyats 6.00

(2) Cotton Fabric will be included 100% Polyester Fabric, 100% Nylon Fabric, 100% Cotton Fabric, T/C 65% Polyester 35% Cotton Fabric, Interlining, 100% Polyester Padding and 100% Polyester Knitted Fabric.

(3) Trimming will be included Ribknit, Thread, Zipper, Button, Snap Buttons, Eyelet, Buckle, Main Label, Size Label, Care Label, String, Tape, Elastic, Hangtag, Shoulder Pad, Velco Fastener, Rivet, Badge, Stopper, Toggle, Belt, Sticker, Hanger, Polybag, Carton, Gummed Tape/Scotch, Safety Pin, Plastic Pin, Plastic String, Tissue Paper, Card Board, Plastic Strip, Marker Paper, Paper Pattern Paper.

**PROPOSAL FORM (1) RE-ITEM 8 (j)**
**GOODS TO BE PRODUCED**

**1.0 PRODUCTS**

**Exhibit No. V**

| PARTICULARS | UNIT | Maximum Capacity 300 days/Year | | | | |
|---|---|---|---|---|---|---|
| | | YEAR | | | | |
| | | 1 | 2 | 3 | 4 | 5-10 |
| **Production Quantity** | | | | | | |
| **Quantity for C.M.P System** | | | | | | |
| T-Shirt, Sport-Shirt | Pcs 000 | 300 | 300 | 300 | 300 | 300 |
| Coat, Jacket | Pcs 000 | 300 | 300 | 300 | 300 | 300 |
| **Export Sale Quantity( 95% )** | | | | | | |
| T-Shirt, Sport-Shirt | Pcs 000 | 285 | 285 | 285 | 285 | 285 |
| Coat, Jacket | Pcs 000 | 285 | 285 | 285 | 285 | 285 |
| **Local Sale Quantity( 5% )** | | | | | | |
| T-Shirt, Sport-Shirt | Pcs 000 | 15 | 15 | 15 | 15 | 15 |
| Coat, Jacket | Pcs 000 | 15 | 15 | 15 | 15 | 15 |
| **Income Price for C.M.P System** | | | | | | |
| T-Shirt, Sport-Shirt | US$/Pcs000 | 500 | 550 | 600 | 650 | 700 |
| Coat, Jacket | US$/Pcs000 | 1300 | 1430 | 1560 | 1690 | 1820 |
| **Export Sale(Price)** | | | | | | |
| T-Shirt, Sport-Shirt | US$/Pcs000 | 4000 | 4400 | 4800 | 5200 | 5600 |
| Coat, Jacket | US$/Pcs000 | 10000 | 11000 | 12000 | 13000 | 14000 |
| **Local Sale(Price)** | | | | | | |
| T-Shirt, Sport-Shirt | Ks/Pcs000 | 1100000 | 1210000 | 1320000 | 1430000 | 1540000 |
| Coat, Jacket | Ks/Pcs000 | 2500000 | 2750000 | 3000000 | 3250000 | 3500000 |
| **Income Value from C.M.P System** | | | | | | |
| T-Shirt, Sport-Shirt | US$ 000 | 150 | 165 | 180 | 195 | 210 |
| Coat, Jacket | US$ 000 | 390 | 429 | 468 | 507 | 546 |
| **Export Sale Value** | | | | | | |
| T-Shirt, Sport-Shirt | US$ 000 | 1140 | 1254 | 1368 | 1482 | 1596 |
| Coat, Jacket | US$ 000 | 2850 | 3135 | 3420 | 3705 | 3990 |
| **Total Income in US Dollar** | US$ 000 | 4530 | 4983 | 5436 | 5889 | 6342 |
| **Equivalent in Kyats** | Ks 000 | 27180 | 29898 | 32616 | 35334 | 38052 |
| **Local Sale Value** | | | | | | |
| T-Shirt, Sport-Shirt | Ks 000 | 16500 | 18150 | 19800 | 21450 | 23100 |
| Coat, Jacket | Ks 000 | 37500 | 41250 | 45000 | 48750 | 52500 |
| **Total Local Sale in Kyat** | Ks 000 | 54000 | 59400 | 64800 | 70200 | 75600 |
| **Total Sale in Kyat** | Ks 000 | 81180 | 89298 | 97416 | 105534 | 113652 |

Note: (1) Exchange Rate 1 US$ = Kyats 6.00

| | | AMOUNT |
|---|---|---|
| Sr.No | | Particulars |
| 1 | | 2 |
| 1 | | **CASH IN FLOW** |
| | 1 | Equity Capital |
| | 2 | Loan |
| | 3 | Profit in US$ after Tax |
| | 4 | Equivalent in Kyats |
| | 5 | Profit in Kyats after Tax |
| | 6 | Depreciation |
| | | **CASH OUT FLOW** |
| | 1 | Loan Repayment in Cash |
| | 2 | Factory Buildings |
| 4 | | Net Cash Flow |
| 5 | | Opening Balance |
| 6 | | Closing Balance |

Note: : Exchange Rate 1 US$ = Kyat 6.0

**PROPOSAL FORM (1) RE-ITEM 11(a), (b)**

**LIST OFPERSONNEL REQUIREMENT**

**Exhibit No. ( VII )**

| **Sr. No.** | **Description** | No. of Requirement |
|---|---|---|
| (A) | **LOCAL PERSONNEL** | |
| 1 | Marketing Manager | 1 |
| 2 | Financial Manager | 1 |
| 3 | Adminstrative Manager | 1 |
| 4 | Office Staff | 8 |
| 5 | Production Manager / Engineer | 7 |
| 6 | Production Supervisor/ Assit. Engineer | 10 |
| 7 | Skill Workers | 180 |
| 8 | Semi-skilled Workers | 40 |
| 9 | Unskilled Workers | 20 |
| 10 | Driver | 4 |
| 11 | Guard Man | 5 |
| | **SUB-TOTAL** | 277 |
| (B) | FOREIGN PERSONNEL | |
| 1 | Technician | 3 |
| 2 | Engineer | 2 |
| | **SUB-TOTAL** | 5 |
| | **TOTAL** | 282 |

မှတ်ချက်။ ။ နိုင်ငံခြားသားပညာရှင်ဝန်ထမ်းများကို စက်ရုံအဆင်ပြေစွာလည်ပတ်ထုတ်လုပ်နိုင်ရေးအတွက် ပထမနှစ်နှင့်ဒုတိယနှစ်များတွင်သာ (၃)လ၊ (၆)လ စသည်ဖြင့် အချိန်ပိုင်းအားဖြင့်သာ ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

PROPOSAL FOR

PARTICULAR RELATIN

PROFIT AND LOSS BUDGET IN THOUSAND ( 00

| Sr No | | Particulars | Year 1 | | | |
|---|---|---|---|---|---|---|
| | | | US$ | Kyat | Equ.Ks | U |
| 1 | | **SALE INCOME** | | | | |
| | 1 | US$ Income | 4530 | | 27180 | |
| | 2 | Kyat Income | | 54000 | 54000 | |
| | | **Sub-Total** | 4530 | 54000 | 81180 | |
| 2 | | **COST OF PRODUCTS** | | | | |
| | 1 | Basic Raw Material | 3360 | 30000 | 50160 | |
| | | **Sub-Total** | 3360 | 30000 | 50160 | |
| 3 | | **GROSS PROFIT** | 1170 | 24000 | 31020 | |
| 4 | | **EXPENDITURES** | | | | |
| | 1 | Salary & Wages | 50 | 10000 | 10300 | |
| | 2 | Power & Electricity | 7 | 1000 | 1042 | |
| | 3 | Selling Expenses | 5 | 500 | 530 | |
| | 4 | Repair & Maintenance | 10 | 1500 | 1560 | |
| | 5 | Land Rental Fee | | 1200 | 1200 | |
| | 6 | Other Expenditures | 20 | 3500 | 3620 | |
| | 7 | Interest on Loan | 180 | | 1080 | |
| | 8 | Commercial Tax | 0 | 4909 | 4909 | |
| | 9 | Depreciation | - | 1160 | 1160 | |
| | | **Sub-Total** | 272 | 23769 | 25401 | |
| 5 | | **PROFIT BEFORE TAX** | 898 | 231 | 5619 | |
| 6 | | Income Tax | - | - | - | |
| 7 | | **PROFIT AFTER TAX** | 898 | 231 | 5619 | |

Note: (1) Exchange Rate 1 US $ = Kyat 6.00 (2) (

**PROPOSAL FORM (1) RE-ITEM 12(d)**

**CAPITAL COST**

**Exhibit No. ( IX )**
**( Kyat in Thousand )**

| Sr. No. | | Particulars | EQUITY | LOAN | TOTAL |
|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 |
| 1 | | **Investment Type** | | | |
| | A | LOCAL CAPITAL | | | |
| | 1 | In Cash | 7000 | - | 7000 |
| | 2 | In Factory Buildings | 8000 | | 8000 |
| | 3 | In Machineries (US$ 600000) | - | 3600 | 3600 |
| | 4 | In Materials ( US$ 3000000 ) | - | 18000 | 18000 |
| | | TOTAL CAPITAL | 15000 | 21600 | 36600 |

Note: Exchange Rate 1 US$ = Kyats 6.00

## PROPOSAL FORM (1) RE-ITEM 12 (e)
## RECOUPMENT PERIOD

( Kyats in Thousand )

Exhibit No X

| Sr.No | | Particulars | | Year 1 | Year 2 | Year 3 | Year 4 | Year 5 | Year 6 | Year 7 | Year 8 | Year 9 | Year 10 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| 1 | | 2 | | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 | 11 | 12 |
| 1 | | **NET PROFIT AFTER TAX** | | | | | | | | | | | |
| | 1 | Profit in US$ after Tax | | 898 | 1027 | 1216 | 1147 | 1261 | 1261 | 1261 | 1261 | 1261 | 1261 |
| | 2 | Equivalent in Kyats | | 5388 | 6162 | 7296 | 6882 | 7566 | 7566 | 7566 | 7566 | 7566 | 7566 |
| | 3 | Profit in Kyats after Tax | | 231 | 340 | 449 | 391 | 467 | 467 | 467 | 467 | 467 | 467 |
| | 4 | Depreciation | | 1160 | 1160 | 1160 | 1160 | 1160 | 1160 | 1160 | 1160 | 1160 | 1160 |
| | | | | 6779 | 7662 | 8905 | 8433 | 9193 | 9193 | 9193 | 9193 | 9193 | 9193 |
| 2 | | **INVESTMENT** | | | | | | | | | | | |
| | 1 | Equity Capital in Cash | 7000 | | | | | | | | | | |
| | 2 | Factory Buildings | 8000 | | | | | | | | | | |
| | 3 | Repayment for DPPV ( Machinery & Materials ) | 21600 | | | | | | | | | | |
| | | | 36600 | | | | | | | | | | |
| 4 | | Total Net Profit | -36600 | 6779 | 7662 | 8905 | 8433 | 9193 | 9193 | 9193 | 9193 | 9193 | 9193 |
| 5 | | Opening Balance | | -36600 | -29821 | -22159 | -13254 | -4821 | 4372 | 13565 | 22758 | 31951 | 41144 |
| 6 | | Accumulative Net Profit | -36600 | -29821 | -22159 | -13254 | -4821 | 4372 | 13565 | 22758 | 31951 | 41144 | 50337 |

Note: : ( 1 )Pay back period is 4 years and 6 Months.

( 2 )Exchange Rate 1 US$ = Kyat 6.0

| | **Kyats** | **Periods** |
|---|---|---|
| Year 1 to 4 | -4821 | 4 Years |
| Year 5 ( 4821/9193 )* 12 Months | 4821 | 6 Months |
| | 0 | 4 Years and 6 Months |

